# ပြည်ထောင်စုမြန်မာနိုင်ငံတော်
# မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်

စာအမှတ်၊ရက-၆(ခ)/မ-၁၄၄၁/၂၀၀၈(၂၃၄၉-၈)
ရက်စွဲ ၊ ၂၀၀၈ ခုနှစ်၊ ဇန်နဝါရီလ ၃၁ ရက်။

## ကုန်သွယ်မှု မူဝါဒ ကောင်စီသို့ တင်ပြသည့်
## အမှာစာ

အကြောင်းအရာ။ ။ မြန်မာသစ်ဈေးကွက် ကုမ္ပဏီ လီမိတက် ( Myanmar Wood Mart Co., Ltd. ) မှ ခွဲစိတ် ပေါင်းတင် ပြီး ရော်ဘာသစ်ခွဲသားနှင့် ရော်ဘာသစ် ပရိဘောဂ ထုတ်လုပ်မှု လုပ်ငန်း ဆောင်ရွက်ရန် အဆိုပြု တင်ပြခြင်း ကိစ္စ။

၁။ မြန်မာကုမ္ပဏီ ဖြစ်သော မြန်မာသစ်ဈေးကွက် ကုမ္ပဏီ လီမိတက် ( Myanmar Wood Mart Co., Ltd.) မှ ကုမ္ပဏီအမည်ဖြင့် ရော်ဘာသစ်ခွဲသား စက်ရုံမြေအဖြစ် ဆောင်ရွက်ရန် တနင်္သာရီတိုင်း အေးချမ်းသာယာရေး နှင့် ဖွံ့ဖြိုးရေးကောင်စီမှ ချပေးထားသော တနင်္သာရီတိုင်း၊ ထားဝယ်မြို့နယ်၊ သပြေချောင်းကျေးရွာ၊ ဦးပိုင်အမှတ် (၂၆၈/၁ မှ ၁၂ အထိ)နှင့် (၂၆၉/၂၇၀)၊ မြေကွက်အမှတ် (၁၀၃/ခ) ရှိ လန (၃၉) မြေ (၇.၅၄)ဧကတွင် ခွဲစိတ်ပေါင်းတင်ပြီး ရော်ဘာသစ်ခွဲသား နှင့် ရော်ဘာသစ် ပရိဘောဂ ထုတ်လုပ်ခြင်း လုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေအရ ဆောင်ရွက်ရန်အဆိုပြုတင်ပြလာပါသည်။ ယင်းအဆိုပြုတင်ပြချက် နှင့် စပ်လျဉ်း၍ (၅-၁၂-၂၀၀၇) နေ့ တွင် ကျင်းပပြုလုပ်သည့် ကုန်သွယ်မှု မူဝါဒ ကောင်စီ၏ (၄၂/၂၀၀၇)အစည်းအဝေးမှ အောက်ပါ အတိုင်း လမ်းညွှန်ထားပါသည်။

(က) မြန်မာသစ်ဈေးကွက် ကုမ္ပဏီလီမိတက် ( Myanmar Wood Mart Co., Ltd.) ကို ပုဂ္ဂလိကစက်မှုလက်မှု လုပ်ငန်းဥပဒေအရ မှတ်ပုံတင်ထားရှိစေရန်။

(ခ) ရော်ဘာပင်အိုများ ခုတ်လှဲရေးကိစ္စနှင့်သစ်အချောထည်နှင့်ပရိဘောဂများ Export တင်ပို့ သည့်အခါ မြန်မာ့ စက်မှု သီးနှံဖွံ့ဖြိုးရေး လုပ်ငန်း၊ နှစ်ရှည်ပင် နှင့် စိုက်ပျိုး မွေးမြူရေးလုပ်ငန်း ဌာနမှ အတည်ပြုချက် ရယူရေးကိစ္စကို လယ်ယာ စိုက်ပျိုးရေး နှင့် ဆည်မြောင်းဝန်ကြီးဌာန၊ သစ်တောရေးရာ ဝန်ကြီးဌာနနှင့် မြန်မာနိုင်ငံ ရင်းနှီး မြှုပ်နှံမှု ကော်မရှင်တို့ ညှိနှိုင်းပြီး ပြန်လည် တင်ပြရန်။

၂။ အထက်ပါ လမ်းညွှန်ချက်များနှင့် စပ်လျဉ်း၍ (၂-၁-၂၀၀၈)နေ့တွင် ကျင်းပပြုလုပ်သည့် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏(၁/၂၀၀၈)အစည်းအဝေးတွင် စက်မှုကြီးကြပ်ရေးနှင့် စစ်ဆေးရေးဦးစီးဌာန၊ မြန်မာ့စက်မှုသီးနှံဖွံ့ဖြိုးရေး လုပ်ငန်း၊ နှစ်ရှည်ပင် နှင့် စိုက်ပျိုးမွေးမြူရေးလုပ်ငန်းနှင့် သစ်တောဦးစီးဌာန မှ တာဝန်ရှိသူများနှင့် တွေ့ဆုံညှိနှိုင်းခဲ့ပါသည်။

၃။ ကုန်သွယ်မှု မူဝါဒ ကောင်စီ၏ (၄၂/၂၀၀၇) (၅-၁၂-၂၀၀၇) အစည်းအဝေး မှ လမ်းညွှန်သည့် ပုဂ္ဂလိကစက်မှုလက်မှု လုပ်ငန်းဥပဒေအရ မှတ်ပုံတင်ထားရှိစေရန်နှင့် စပ်လျဉ်း၍ စစ်ဆေးခဲ့ရာ မြန်မာသစ်ဈေးကွက် ကုမ္ပဏီ လီမိတက် သည် အမှတ်(၁)စက်မှု ဝန်ကြီးဌာန၊ စက်မှု ကြီးကြပ်ရေး နှင့် စစ်ဆေးရေး ဦးစီးဌာန၌ ပုဂ္ဂလိကစက်မှုလုပ်ငန်းမှတ်ပုံတင် ထားရှိပြီးဖြစ်ပါသည်။

၄။ ရော်ဘာပင်အိုများ ခုတ်လှဲရေးကိစ္စနှင့် သစ်အချောထည်နှင့် ပရိဘောဂများ Export တင်ပို့ခြင်းကိစ္စနှင့် စပ်လျဉ်း၍ လယ်ယာစိုက်ပျိုးရေးနှင့် ဆည်မြောင်းဝန်ကြီးဌာနမှ အောက်ပါအတိုင်း တင်ပြထားပါသည်။

(က) ရော်ဘာပင်အိုများခုတ်လှဲရာတွင်သတ်မှတ်သက်တမ်းပြည့်မီကျော်လွန်မှုအား စစ်ဆေးကာ သစ်တော ဦးစီးဌာန ၏ ညွှန်ကြားချက်များ နှင့် အညီ ဆောင်ရွက်ပါကြောင်း၊

(ခ) ပုဂ္ဂလိက လုပ်ငန်းရှင်များ မှ ရော်ဘာသစ်ခွဲသား၊ရော်ဘာသစ် နှင့် ပြုလုပ်ထားသော ပရိဘောဂများနှင့် ပစ္စည်းများ ပြည်ပတင်ပို့ရန် ထုတ်ကုန်လိုင်စင် လျှောက်ထားလာပါကသက်ဆိုင်ရာဌာန၏ ထောက်ခံချက်ပါမှသာ စီးပွားရေး နှင့် ကူးသန်းရောင်းဝယ်ရေး ဝန်ကြီး ဌာန မှ ထုတ်ကုန်လိုင်စင်ထုတ်ပေးရန် အတွက် လျှောက်လွှာများအား လက်ခံ ဆောင်ရွက်ပေးပါကြောင်း၊

(ဂ) ရော်ဘာသစ်ခွဲသားကုန်ချောများနှင့်ပတ်သက်၍ ပြည်ပတင်ပို့ရန် ထုတ်ကုန်လိုင်စင် လျှောက်ထားရေးအတွက် ကုမ္ပဏီများမှ တင်ပြရန် လိုအပ်သော စာရွက် စာတမ်းများ ပြည့်စုံစွာ တင်ပြ မှ သာ မြန်မာ့စက်မှုသီးနှံ ဖွံ့ဖြိုးရေး လုပ်ငန်း၊ နှစ်ရှည်ပင် နှင့် စိုက်ပျိုးမွေးမြူရေး လုပ်ငန်းဌာန တို့မှ စိစစ်ထောက်ခံပေးပါကြောင်း၊ထောက်ခံချက်အား ရက်(၆၀) သတ်မှတ်ပေးခြင်း နှင့် လိုင်စင်သက်တမ်း ရက်(၆၀) ကျော်လွန်ပါက မြန်မာ့စက်မှုသီးနှံဖွံ့ဖြိုးရေး လုပ်ငန်း နှစ်ရှည်ပင်နှင့်စိုက်ပျိုးမွေးမြူရေး လုပ်ငန်းဌာနများ မှ ထောက်ခံချက် ဖြင့်သာ သက်တမ်းတိုးခွင့်ပြုပါကြောင်း၊

(ဃ)ပုဂ္ဂလိက လုပ်ငန်းရှင် ၏ တင်ပြလာခြင်း အပေါ် ရော်ဘာသစ်များ အပြည့်အဝ ရှိ-မရှိ၊ အမျိုးအစား ၊ အရည်အသွေး မှန်ကန်မှု ရှိ-မရှိ ကို ရော်ဘာသစ် သိုလှောင် ထားရာ သိုလှောင်ရုံ သို့ ဌာနမှ အဖွဲ့ဖြင့် သွားရောက် စစ်ဆေးပါကြောင်း၊ ကုမ္ပဏီမှ တင်ပြလာသော ဈေးနှုန်းဖြင့် နှိုင်းယှဉ်ပြီး အဖွဲ့ဖြင့်စစ်ဆေးတွေ့ရှိသည့် ရော်ဘာသစ် အရည်အသွေးပေါ်မူတည်၍ ဈေးနှုန်းစိစစ်ပေးပါကြောင်း၊

၅။ ကုန်သွယ်မှု မူဝါဒ ကောင်စီ၏ (၄၂/၂၀၀၇) (၅-၁၂-၂၀၀၇) အစည်းအဝေး လမ်းညွှန်ချက်နှင့်အညီ သက်ဆိုင်ရာဌာနများ နှင့် ညှိနှိုင်းပြီးဖြစ်ပါ၍ မြန်မာသစ်ဈေးကွက် ကုမ္ပဏီ လီမိတက်မှ ခွဲစိတ်ပေါင်းတင်ပြီး ရော်ဘာသစ်ခွဲသားနှင့် ရော်ဘာသစ်ပရိဘောဂထုတ်လုပ်ခြင်းလုပ်ငန်းဆောင်ရွက်ခွင့်ပြုပါရန် ပြန်လည်တင်ပြခြင်းဖြစ်ပါသည်။ လုပ်ငန်းစီမံကိန်း၏ စီးပွားရေးဆိုင်ရာ အဓိက အချက်များကို ပူးတွဲ တင်ပြအပ်ပါသည်။

၆။ ဆုံးဖြတ်ရန်အချက်

မြန်မာသစ်ဈေးကွက် ကုမ္ပဏီလီမိတက်( Myanmar Wood Mart Co., Ltd.) မှ ခွဲစိတ်ပေါင်းတင်ပြီး ရော်ဘာသစ်ခွဲသား နှင့် ရော်ဘာသစ် ပရိဘောဂထုတ်လုပ်ခြင်းလုပ်ငန်းအား မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ နှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန်။

၇။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ထောက်ခံချက်

ကုန်သွယ်မှု မူဝါဒ ကောင်စီ၏ ဆုံးဖြတ်ချက်ကို နာခံပါမည်။

( ဗိုလ်မှူးချုပ်မောင်မောင်သိမ်း )
ဥက္ကဋ္ဌ
မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်
ဝန်ကြီး၊ မွေးမြူရေးနှင့်ရေလုပ်ငန်းဝန်ကြီးဌာန။

ကုန်သွယ်မှု မူဝါဒ ကောင်စီ

ပူးတွဲ

(လုပ်ငန်းစီမံကိန်း၏ စီးပွားရေးဆိုင်ရာ အဓိကအချက်များ)

| | | |
|---|---|---|
| ၁။ | ကုမ္ပဏီအမည် | မြန်မာသစ်ဈေးကွက် ကုမ္ပဏီလီမိတက်<br>(Myanmar Wood Mart Co.,Ltd )<br>(၂၂-၃-၂၀၀၅ နေ့တွင် မှတ်ပုံတင်ပြီး) |
| ၂။ | လုပ်ငန်းအဆိုပြုသူအမည် | ဦးဝင်းအောင် |
| ၃။ | အဆိုပြုလုပ်ငန်း အမျိုးအစား | ခွဲစိတ်ပေါင်းတင်ပြီးရာဘာသစ်ခွဲသား နှင့် ရာဘာသစ်ပရိဘောဂ ထုတ်လုပ်မှု လုပ်ငန်း |
| ၄။ | တည်နေရာ | မြေကွက်အမှတ်(၁၀၃/ခ)၊ ဦးပိုင်အမှတ်(၂၆၈/၁+၂+၃+၄+၅+၆+၇+၈+၉+၁၀+၁၁+၁၂)နှင့်(၂၆၉/၂၇၀)၊ သပြေချောင်းကျေးရွာ၊ ထားဝယ်မြို့၊ တနင်္သာရီတိုင်း |
| ၅။ | စုစုပေါင်းရင်းနှီးမြှုပ်နှံမှု | ကျပ် ၂၀၁.၅၀ သန်း |
| | - ငွေပမာဏ | ကျပ် ၂၁.၀၀ သန်း |
| | - စက်ပစ္စည်းကိရိယာ | ကျပ် ၈၉.၁၉ သန်း |
| | - အဆောက်အအုံ | ကျပ် ၈၀.၀၀ သန်း |
| | - ပရိဘောဂနှင့် လုပ်ငန်းသုံးပစ္စည်းများ | ကျပ် ၅.၄၉ သန်း |
| | - လျှပ်စစ်ပစ္စည်း | ကျပ် ၅.၈၂ သန်း |
| ၆။ | မြေအကြောင်းအရာ | |
| | - မြေအကျယ်အဝန်း | (၇.၅၄) ဧက |
| | - မြေပိုင်ဆိုင်မှု | တနင်္သာရီတိုင်း အေးချမ်းသာယာရေး နှင့် ဖွံ့ဖြိုးရေးကောင်စီမှ Myanmar Wood Mart Co.,Ltd အမည် ဖြင့် ရာဘာ သစ်ခွဲသား စက်ရုံ မြေ အဖြစ်အသုံးပြုရန် ချပေးထားသောမြေ။ |
| | - မြေအမျိုးအစား | လန ၃၉ မြေ |
| | အဆောက်အဦလိုအပ်ချက် | ပထမအဆင့်<br>- သစ်ခွဲစိတ်ဆောင် (၈၆' x ၅၀') ၁ လုံး<br>- မီးစက်ခန်း(၃၀'x၁၅') ၁ လုံး<br>- ရုံးခန်းနှင့် ဝန်ထမ်းအိမ် (၃၀'x၁၅') ၁ လုံး<br>- အခြောက်ခံခန်း (၁၀၀' x ၆၀') ၁ လုံး<br>- ဘွိုင်လာဆောင် (၃၀'x၂၀') ၁ လုံး<br>- ဂိုဒေါင် (၄၀'x၄၀') ၁ လုံး<br>(အဆောက်အဦများအကြမ်းထည်ဆောက်လုပ်ပြီးဖြစ်ပါသည်။) |

| | | |
|---|---|---|
| | | <u>ဒုတိယအဆင့်</u><br>- ပရိဘောဂစက်ရုံ (၁၀၅'x၅၅') ၁ လုံး |
| ၇။ | ထုတ်လုပ်မှု (ပုံမှန်နှစ်)<br>- Rubber Conversion<br>- Rubber Furniture<br>- By Product | <u>မက်ထရစ်တန်</u><br>၃၅၁၀<br>၂၅၄၀<br>၄၃၀၂ |
| ၈။ | ရောင်းချမည့်နည်းစနစ်<br>- Rubber Conversion<br>- Rubber Furniture<br>- By Product | <u>ပြည်ပ</u> <u>ပြည်တွင်း</u><br>၉၅ % ၅%<br>၁၀၀% -<br>- ၁၀၀%<br>(ပြည်ပဈေးကွက်အထောက်အထားအဖြစ်ဗီယက်နမ်နိုင်ငံ Jardine Enterprise Vietnam Ltd နှင့် ကမ္ဘောဒီးယားနိုင်ငံ G Chang Import-Export Co.,Ltd မှ ကုန်ချောများ ဝယ်ယူမည့် အကြောင်းကြားစာ များကို တင်ပြထားပါသည်။) |
| ၉။ | ရောင်းဈေးနှုန်း(ပုံမှန်နှစ်)<br><br><br>- Rubber Conversion<br>- Rubber Furniture<br>- By Product | <u>ပြည်ပ</u> (အမေရိကန်ဒေါ်လာ/မက်ထရစ်တန်) <u>ပြည်တွင်း</u> (ကျပ်/မက်ထရစ်တန်)<br>၂၃၀ ၂၂၀,၀၀၀<br>၃၈၀ -<br>- ၁၂၀,၀၀၀ |
| ၁၀။ | ဝင်ငွေ(ပုံမှန်နှစ်)<br>- နိုင်ငံခြားငွေဖြင့်<br>- ကျပ်ငွေဖြင့် | <br>US$ ၁.၇၃ သန်း<br>ကျပ် ၅၅၅.၉၄ သန်း |
| ၁၁။ | အသားတင်အမြတ်<br>- နိုင်ငံခြားငွေဖြင့်<br>- ကျပ်ငွေဖြင့် | <br>US$ ၁.၃၂ သန်း<br>ကျပ် ၈၇.၁၅ သန်း |
| ၁၂။ | အရင်းကြေကာလ | ၄) နှစ် |
| ၁၃။ | အရင်းအနှီးအပေါ်အကျိုးအမြတ်ပြန်ပေါ်နှုန်း (IRR) | ၂၉.၇၄)ရာခိုင်နှုန်း |

| | | |
|---|---|---|
| ၁၄။ | နိုင်ငံတော်မှပုံမှန်နှစ်တွင်ရရှိမည့်အကျိုးအမြတ်<br>- ဝင်ငွေခွန် | US$ ၀.၂၃ သန်း<br>ကျပ် ၃၇.၃၅ သန်း |
| | - ကုန်သွယ်လုပ်ငန်းခွန်<br>(ပြည်ပရောင်းရငွေအပေါ် ၁၀%)<br>(ပြည်တွင်းရောင်းရငွေအပေါ် ၂၀%) | US$ ၀.၁၇ သန်း<br>ကျပ် ၁၁၉.၁၉ သန်း |
| ၁၅။ | လုပ်သားအင်အား<br>- ပြည်တွင်း<br>- ပြည်ပ | ၃၅၄ ဦး<br>၃၅၁ ဦး<br>၃ ဦး |
| ၁၆။ | တည်ဆောက်မှုကာလ | (၁) နှစ် |
| ၁၇။ | စက်ပစ္စည်းဝယ်ယူရန်ငွေကြေးအထောက်အထား | - လုပ်ငန်းအတွက် အသုံးပြုရန် လိုအပ်သည့် စက်ပစ္စည်း များကို Phase I တွင် စက်ပစ္စည်း (၂၃) မျိုး ကျပ် (၅၆.၄၉)သန်းဖိုး ကို Pacific High Technology Int'l Co., Ltd ထံမှ ဝယ်ယူထားကြောင်း အရောင်းအဝယ်စာချုပ်နှင့် ID ,IL များ တင်ပြထားပါသည်။ ကျန် ကျပ်(၁.၁၉) သန်းမှာ Waste Water Treatment ဝယ်ယူရန်ဖြစ်ပြီး ပြည်တွင်း မှပင် ဝယ်ယူမည်ဖြစ်ကြောင်း တင်ပြထားပါသည်။<br>- Phase II တွင်စက်ပစ္စည်း(၁၂)မျိုး[ ကျပ်(၃၁.၅၀) သန်း]ကို ဒုတိယနှစ်တွင် လုပ်ငန်းမှရရှိမည့် ဝင်ငွေဖြင့်ဝယ်ယူမည်ဖြစ်ပါသည်။<br>- ကမကထ ပြုသူ ဦးဝင်းအောင် အမည် ဖြင့် ကမ္ဘောဇ ဘဏ်ရှိ ငွေကြေး ဆိုင်ရာ အထောက်အထားတင်ပြထားရာလုပ်ငန်းအတွက်လုံလောက်ကြောင်းစိစစ်တွေ့ရှိရပါသည်။ |
| ၁၈။ | ကုန်ကြမ်းရရှိမှု | - လုပ်ငန်းအတွက် လိုအပ်သော ကုန်ကြမ်း၊ ရာဘာသစ်လုံးများကို တနင်္သာရီတိုင်းအတွင်းရှိ ပုဂ္ဂလိက ရာဘာခြံများမှ လည်းကောင်း၊ နှစ်စဥ်ရာဘာသစ်ခွဲရန် ရာဘာစေး မထွက်သော သက်တမ်းလွန် အပင်အိုများကို စက်ရုံတည်ရှိရာဒေသနှင့် အနီးဒေသ များတွင် အဓိက ရယူ ဆောင်ရွက်မည်ဖြစ်ကြောင်း တင်ပြထားပါသည်။ |

| | | |
|---|---|---|
| ၁၉။ | သက်ဆိုင်ရာ ဝန်ကြီး ဌာနများ မှ သဘောထား မှတ်ချက် | - အမှတ်(၁) စက်မှု ဝန်ကြီးဌာန မှ ကန့်ကွက်ရန် မရှိပါကြောင်း သဘောထား ပြန်ကြားထားပါသည်။<br>- သစ်တောရေးရာ ဝန်ကြီးဌာနမှ အဆိုပါ ကုမ္ပဏီသည် သစ်ခွဲစိတ်ဆောင်ရွက်ခွင့်ကို ၁၉၉၇ ခုနှစ်တွင် စတင် ရရှိ ခဲ့ကြောင်း၊ (၂၂-၁၂-၂၀၀၆) ကွင်းဆင်း စစ်ဆေးချက်အရ သစ်စက် လိုင်စင် စည်းကမ်း၊ လုပ်ထုံး လုပ်နည်းများ နှင့် အညီ လိုက်နာ ဆောင်ရွက် လျှက်ရှိခြင်း တို့ကြောင့် အဆိုပြု လုပ်ငန်း ဆောင်ရွက်ခွင့်အား ကန့်ကွက်ရန် မရှိ ကြောင်း၊ သဘောထားပြန်ကြားထားပါသည်။<br>[ကုမ္ပဏီမှ သစ်ခွဲစိတ် ဆောင်ရွက်မှုမှာ သစ်ခွဲစက် လိုင်စင်ရရှိရေး၊ သစ်တောစည်းမျဉ်းများအရ စက်ပိတ်သိမ်းမှု မရှိစေရန် အတွက် ရှေ့ပြေး စမ်းသပ် ဆောင်ရွက်မှုသာ ဖြစ်ပါကြောင်း တင်ပြထား ပါသည်။]<br>- လယ်ယာစိုက်ပျိုးရေးနှင့် ဆည်မြောင်းဝန်ကြီးဌာနမှ အောက်ပါအတိုင်းသဘောထားပြန်ကြား ထားပါသည်၊<br>(က) စက်ရုံမြေ မှာ လန(၃၉) ခွင့်ပြုချက် ရရှိပြီး ဖြစ်၍ ဆောင်ရွက်သင့်ပါကြောင်း၊<br>(ခ) Rubber Wood ကုန်ကြမ်းရရှိနိုင်သောဒေသ ဖြစ်၍ သင့်လျော်ပါကြောင်း၊<br>(ဂ) ရာဘာပင် အိုများ ခုတ်လှဲ ရာတွင် တည်ဆဲ လုပ်ထုံးလုပ်နည်း နှင့်အညီ လိုက်နာ ဆောင်ရွက်ရန်၊<br>(ဃ) သစ်အချောထည်နှင့်ပရိဘောဂများ Export ဘင်ပို့သည့် အခါ မြန်မာ့စက်မှု သီးနှံဖွံ့ဖြိုးရေး လုပ်ငန်း၊ နှစ်ရှည်ပင် နှင့် စိုက်ပျိုးမွေးမြူရေး လုပ်ငန်း ဌာန မှ အတည်ပြုချက် ရယူရန် လိုအပ်ကြောင်း၊<br>(င) အဆိုပြုမြေပေါ်တွင် ရာဘာပေါင်းသား စက်ရုံကို ၂၀၀၆ ခုနှစ်၊ ဩဂုတ်လ မှ စ၍ စမ်းသပ် ဆောင်ရွက်လျှက် ရှိကြောင်း၊ |

| | | |
|---|---|---|
| | | - တနင်္သာရီတိုင်းအေးချမ်းသာယာရေးနှင့် ဖွံ့ဖြိုးရေးကောင်စီမှ ကန့်ကွက်ရန် မရှိကြောင်း ထောက်ခံတင်ပြထားပါသည်။<br>- စီးပွားရေးနှင့် ကူးသန်းရောင်းဝယ်ရေး ဝန်ကြီးဌာန၊ ကုန်သွယ်ရေး ညွှန်ကြားမှု ဦးစီးဌာနက စက်ရောင်းသူ Pacific High Technology Int'l Co., Ltd မှ စက်ပစ္စည်း များကို ပို့ကုန် ရငွေ Normal L .c (EXE) ဖြင့် တင်သွင်းခြင်း ဖြစ်ကြောင်း သဘောထား ပြန်ကြားထား ပါသည်။<br>- ဘဏ္ဍာရေးနှင့် အခွန်ဝန်ကြီးဌာန၊ အကောက်ခွန်ဦးစီးဌာန က စက်ရောင်းသူ Pacific High Technology Int'l Co., Ltd မှ တင်သွင်းခဲ့သော စက်ပစ္စည်းများ အတွက် သွင်းကုန်ခွန်ကျပ် (၄.၄၈) သိန်းနှင့် ကုန်သွယ် လုပ်ငန်းခွန်ကျပ် (၈၁.၂၃)သိန်း တို့ကို ပေးဆောင်ခဲ့ကြောင်း ပြန်ကြား ထားပါသည်။ |
| ၂၀။ | အခွန်ကင်းလွတ်ခွင့်/သက်သာခွင့် | - ကုမ္ပဏီမှမြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေ ပုဒ်မ ၁၂ နှင့် ၁၃ ပါ အခွန်ဆိုင်ရာကင်းလွတ်ခွင့်နှင့် သက်သာခွင့်များကိုခံစားခွင့်ပြုပါရန် လျှောက်ထားလာပါသည်။ ဥပဒေ ပုဒ်မ ၁၂ အရ စီးပွားဖြစ် လုပ်ငန်းစတင်သောနှစ်အပါအဝင် တစ်ဆက်တည်း (၃)နှစ်အတွက် ဝင်ငွေခွန်ကင်းလွတ်ခွင့် ပေးရမည်ဖြစ်ပါသည်။ |

## ကုမ္ပဏီဒါရိုက်တာနှင့် အစုရှင်များ၏နေရပ်လိပ်စာစာရင်း

| စဥ် | ကုမ္ပဏီအမည် | ဒါရိုက်တာ/အစုရှင် အမည် | ဒါရိုက်တာ/အစုရှင်များ၏ နေရပ်လိပ်စာ |
|---|---|---|---|
| ၁။ | မြန်မာသစ်ဈေးကွက်ကုမ္ပဏီလီမိတက် (Myanmar Wood Mart Co., Ltd) | ၁။ ဦးဝင်းအောင် အုပ်ချုပ်မှုဒါရိုက်တာ | အမှတ် (၂၅)၊ ဗဟန်း (၂)လမ်း၊ ဗဟန်း မြို့နယ်၊ ရန်ကုန်မြို့။ |
| | | ၂။ ဒေါ်ဝင်းဝင်းရွှေ ဒါရိုက်တာ | အမှတ် (၂၉)၊ အခန်း အမှတ် (၅၀၄)၊ ဂျူးဖြူလမ်း၊ ရှိုင်းတာဝါ (၂)၊ မင်္ဂလာတောင်ညွန့်မြို့နယ်၊ ရန်ကုန်မြို့။ |

| | |
|---|---|
| ၁။ ကုမ္ပဏီ၏ တယ်လီဖုန်းနံပါတ်အမှတ်/ ဖက်(စ်)နံပါတ် | ၃၈၀၄၃၀၊ ၃၈၂၀၂၂-၆ (လိုင်းခွဲ ၁၅၀၄) ၃၈၀၄၃၀ |
| ၂။ ကုမ္ပဏီ၏လိပ်စာအပြည့်အစုံ | အမှတ်(၂၉)၊ အခန်းအမှတ်(၅၀၄)၊ ဂျူးဖြူလမ်း၊ ရှိုင်းတာဝါ (၂)၊ မင်္ဂလာတောင်ညွန့် မြို့နယ်၊ ရန်ကုန်မြို့။ |
| ၃။ ကုမ္ပဏီ၏ဆက်သွယ်ရမည့်ပုဂ္ဂိုလ်အမည်၊ ရာထူး | ဦးဝင်းအောင် (အုပ်ချုပ်မှုဒါရိုက်တာ) |
| ၄။ ကုမ္ပဏီအနေဖြင့်ဆောင်ရွက်သည့်လုပ်ငန်းများ | သစ်ခွဲသား၊ ပရိဘောဂများထုတ်လုပ်မှုလုပ်ငန်း |
| ၅။ ကုမ္ပဏီမှတ်ပုံတင်အမှတ်နှင့် ရက်စွဲ | ၁၈၀၂/၂၀၀၄-၂၀၀၅(၂၂-၃-၂၀၀၅) |
| ၆။ ကုမ္ပဏီသက်တမ်းကုန်ဆုံးမည့်နေ့ | ၂၁-၃-၂၀၀၉ |
| ၇။ ဘဏ်အမည်နှင့် ငွေစာရင်းအမှတ် | ကမ္ဘောဇဘဏ် လီမိတက် ၁၁၄၁၁၁၀၀၄၆၄၄၅ |